Royal British International Co., Ltd. မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍
လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း ပညာရေးဝန်ဆောင်မှုလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှောက်ထားလွှာ တင်ပြလာခြင်း | ၂၅-၉-၂၀၁၈ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့တင်ပြခြင်း | ၃၀/၂၀၁၈ (၁-၁၀-၂၀၁၈) | | |
| ၃ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပညာရေးဝန်ကြီးဌာန<br>- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | <br><br>၂-၁၀-၂၀၁၈<br>၂-၁၀-၂၀၁၈ | <br><br>၁၁-၁၀-၂၀၁၈<br>၁၇-၁၀-၂၀၁၈ | |
| ၄ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၁၇-၁၀-၂၀၁၈ | | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြ ရမည့်အချက်များ အကြောင်းကြားခြင်း | ၁၇-၁၀-၂၀၁၈ | | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၈/၂၀၁၈ (၂-၁၁-၂၀၁၈) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၃၇) ရက်** | | |

အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Royal British International Co., Ltd.

လုပ်ငန်းအမျိုးအစား ပညာရေးဝန်ဆောင်မှုလုပ်ငန်း

PAT အကြိမ်/ ရက်စွဲ ၃၀/၂၀၁၈ (၁-၁၀-၂၀၁၈)

| **စဉ်** | **အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ** | **ဆောင်ရွက်ပြီးစီးမှု ပြီး(✓) မပြီး(X)** | **မှတ်ချက်** |
|---|---|---|---|
| ၁ | မတည်ငွေရင်းအား စိစစ်တင်ပြပေးရန် | ✓ | |
| ၂ | ဝန်ထမ်းအင်အားစာရင်းအား ပြန်လည်ဖော်ပြရန် | ✓ | |
| ၃ | နိုင်ငံခြားသားကျောင်းဆရာများ၏ Education Background အား တင်ပြပေးရန် | ✓ | |

**အကြောင်းအရာ။** **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Royal British International Co., Ltd. မှ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br><br><br><br>လုပ်ငန်းအမျိုးအစား | - Royal British International Co., Ltd.<br>- Mr. Nandwani Prasanthi Kumar Moti<br>- ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Ms. Mary Yap Ley Foon (မလေးရှား) မှ ၉၀ %<br>Mr. Nandwani Prasanthi Kumar Moti (စင်ကာပူ) မှ ၁၀ %<br>- ပညာရေးဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - အမှတ်-၁၅၊ မြေကွက်အမှတ်-၇၈၊ မြေတိုင်းရပ်ကွက်အမှတ်-၄ (ကံဘဲ့)၊ သုခိတာလမ်း၊ ကံဘဲ့ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အအုံအရေအတွက်<br>မြေ/အဆောက်အအုံ<br>ငှားရမ်းခ(နှစ်စဉ်)<br>မြေ/အဆောက်အအုံငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဒေါ်ရွှေရွှေမြင့်<br>- ၀.၁၁၂ ဧက<br>- (၃) ထပ်ခွဲအဆောက်အဦ (၁)လုံး<br>- ကျပ် ၆၀.၀၀ သန်း<br><br>- ၁၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - ၅၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>**ထည့်ဝင်မည့်အမျိုးအစား**<br>ငွေသား<br>မြေ/အဆောက်အဦငှားရမ်းခ<br>ပရိဘောဂနှင့်<br>လုပ်ငန်းသုံးပစ္စည်း<br>**စုစုပေါင်း** | အမေရိကန်ဒေါ်လာ ၀.၂၈ သန်း<br>**US$ (သန်း)**<br>၀.၀၅<br>၀.၂၀<br>၀.၀၃<br><br>**၀.၂၈** |

၇။ နှစ်စဉ်ဝန်ဆောင်မှု(ပထမနှစ်)

| စဉ် | အမျိုးအမည် | ကျောင်းသား ဦးရေ | ဝန်ဆောင်ခနှုန်း (US$/တစ်နှစ်) |
|---|---|---|---|
| (က) | Grade 1 | ၁၅ | ၅,၈၁၀ |
| (ခ) | Grade 2 | - | - |
| (ဂ) | Grade 3 | ၄ | ၆,၂၁၈ |
| (ဃ) | Grade 4 | ၅ | ၆,၂၁၈ |
| (င) | Grade 5 | ၁ | ၆,၂၁၈ |
| (စ) | Grade 6 | - | - |
| (ဆ) | Grade 7 | - | - |
| (ဇ) | Grade 8 | ၃ | ၇,၂၀၈ |
| (ဈ) | Grade 9 | ၂ | ၇,၆၁၄ |
| (ည) | Grade 10 | ၃ | ၇,၆၁၄ |
| (ဋ) | Grade 11 | - | - |
| (ဌ) | Grade 12 | - | - |

၈။ ဝန်ထမ်းခန့်ထားမှု

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| **ဦးရေ** | ၁၇ | ၅ |
| **အမြင့်ဆုံးလစာ(ကျပ်)** | ၂၅၀,၀၀၀ | ၇၅၀,၀၀၀ |
| **အနိမ့်ဆုံးလစာ(ကျပ်)** | ၄၀၀,၀၀၀ | ၁,၂၀၀,၀၀၀ |

၉။ အခြားတင်ပြချက်

- Royal British International Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေးအစီအစဉ်၊ အဆောက်အဦပုံစံ၊ ဆရာ/ မ များ၏ ပညာအရည်အချင်း အထောက်အထားများအား တင်ပြထားပါသည်။
- ပေးအပ်မည့် အောင်လက်မှတ်နမူနာများ၊ သင်ရိုးညွှန်းတမ်းနှင့် သင်ကြားပေးမည့်အစီအစဉ်များ၊ Child Protection Policy၊ Health & Safety တို့အား တင်ပြထားပါသည်။
- မြေပိုင်ရှင် ဒေါ်ဌေးဌေးမြင့်နှင့် ဦးစိုင်းသန်းဦးဇော်တို့ ချုပ်ဆိုထားသည့် ၁၀ နှစ် သက်တမ်းရှိ မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ် တင်ပြထားပါသည်။
- ငွေကြေးအထောက်အထားအဖြစ် Royal British Interantional British International Co., Ltd. အမည်ဖြင့် CB Bank ၌ ၂၄-၉-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၈၉.၉၇ ရှိကြောင်း တင်ပြထားပါသည်။

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် Royal British International Co., Ltd. အမည်ဖြင့် ပညာရေးဝန်ဆောင်မှု လုပ်ငန်းများအား ဆောင်ရွက်လျက်ရှိသော လုပ်ငန်းဖြစ်ကြောင်း တွေ့ရှိရပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/ခ-၀၂၂/ ၂၀၁၈( ၃၆၇ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၃၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Royal British International Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပညာရေးဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာတင်ပြခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မလေးရှားနိုင်ငံ Ms. Mary Yap Ley Foon မှ ၉၀% နှင့် စင်ကာပူနိုင်ငံ Mr. Nandwani Prasanthi Kumar Moti မှ ၁၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Royal British International Co., Ltd. တည်ထောင်ပြီး အမှတ်-၁၅၊ မြေကွက် အမှတ်-၇၈၊ မြေတိုင်းရပ်ကွက်အမှတ်-၄(ကံဘဲ့)၊ သုခိတာလမ်း၊ ကံဘဲ့ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၁၁၂ ဧကရှိ (၃) ထပ်ခွဲအဆောက်အဦအားငှားရမ်း၍ ပညာရေးဝန် ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုလျှောက်ထားလွှာနှင့်အတူ Royal British International Co., Ltd. ၏ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ မြေနှင့်အဆောက်အဦပိုင်ရှင် ဒေါ်မွေးမွေးမြင့် နှင့် ဦးစိုင်းသန်းဦးဇော် တို့ချုပ်ဆိုထားသည့် ၁၀ နှစ် သက်တမ်းရှိ မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း စာချုပ်၊ မြေပိုင်ဆိုင်မှုအထောက်အထား၊ သင်ရိုးညွှန်းတမ်းနှင့် ဆရာ/ဆရာမများ၏ ပညာအရည် အချင်း အထောက်အထားများအား ပူးတွဲတင်ပြထားပါသည်။

၃။ မြေနှင့်အဆောက်အဦငှားရမ်းသက်တမ်းမှာ ကနဦး ၁၀နှစ်၊ စုစုပေါင်းမြေ ၀.၁၁၂ ဧက နှင့် (၃)ထပ်ခွဲအဆောက်အဦ (၁) လုံးအား ငှားရမ်းမည်ဖြစ်ပြီး နှစ်စဉ်ငှားရမ်းခမှာ ကျပ် ၆၀.၀၀ သန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၂၈ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း US$(သန်း)** |
|---|---|
| ငွေသား | ၀.၀၅ |
| မြေ/ အဆောက်အဦ ငှားရမ်းခ | ၀.၂၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | ၀.၀၃ |
| **စုစုပေါင်း** | ၀.၂၈ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၁၇ ဦးနှင့် ပြည်ပဝန်ထမ်း ၅ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာကျပ် ၂၅၀,၀၀၀၊ အမြင့်ဆုံးလစာမှာ ကျပ် ၄၀၀,၀၀၀ နှင့် ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၇၅၀,၀၀၀၊ အမြင့်ဆုံးလစာမှာ ၁,၂၀၀,၀၀၀ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ကျောင်းသားဦးရေ | ဝန်ဆောင်ခနှုန်း (US$/တစ်နှစ်) |
|---|---|---|---|
| (က) | Grade 1 | ၁၅ | ၅,၈၁၀ |
| (ခ) | Grade 2 | - | - |
| (ဂ) | Grade 3 | ၄ | ၆,၂၁၈ |
| (ဃ) | Grade 4 | ၅ | ၆,၂၁၈ |
| (င) | Grade 5 | ၁ | ၆,၂၁၈ |
| (စ) | Grade 6 | - | - |
| (ဆ) | Grade 7 | - | - |
| (ဇ) | Grade 8 | ၃ | ၇,၂၀၈ |
| (ဈ) | Grade 9 | ၂ | ၇,၆၁၄ |
| (ည) | Grade 10 | ၃ | ၇,၆၁၄ |
| (ဋ) | Grade 11 | - | - |
| (ဌ) | Grade 12 | - | - |

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနအဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၃၉/၂၀၁၈၊ ဆုံးဖြတ်ချက်အပိုဒ် ၅၈ အရ အမှတ်-၁၅၊ မြေကွက်အမှတ်-၇၈၊ မြေတိုင်းရပ်ကွက်အမှတ်-၄(ကံဘဲ့)၊ သုခိတာလမ်း၊ ကံဘဲ့ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၁၁၂ ဧက မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းအား ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားခဲ့ပါသည်။

(ခ) **ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်းနှင့် ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် Royal British Interantional British International Co., Ltd. အမည်ဖြင့် CB Bank ၌ ၂၄-၉-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၈၉.၉၇ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကုမ္ပဏီသည် Royal British International Co., Ltd. အမည်ဖြင့် ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်လျက်ရှိသော လုပ်ငန်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Royal British International Co., Ltd. မှ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

| | |
|---|---|
| စာအမှတ် | Mu-1041 |
| ရက်စွဲ | 18-10-18 |




**(နောက်ဆက်တွဲ-က)**

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**တိုင်းဒေသကြီးအစိုးရအဖွဲ့**

**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂.၁၀.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ခ - ၀၂၂ / ၂၀၁၈ (၃၃၅)

၁။ ရာခိုင်နှုန်းပြည့်ရင်းနှီးမြှုပ်နှံမှုဖြင့် မလေးရှားနိုင်ငံ Ms.Mary Yap Ley Foon မှ ၉၀ % နှင့် စင်ကာပူနိုင်ငံ Mr.Nandwani Prasanthi Kumar Moti မှ ၁၀ % ထည့်ဝင်ပြီး မြန်မာနိုင်ငံတွင် Royal British International Co.,Ltd တည်ထောင်ကာ အမှတ်-၁၅၊ မြေကွက်အမှတ် - ၇၈၊ မြေတိုင်းရပ်ကွက်အမှတ်-၄ (ကံဘဲ့)၊ သုခိတာလမ်း၊ ကံဘဲ့ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၁၁၂ ဧကတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၁.၁၀.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၉/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၈)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရန်ကင်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Royal British International Co.,Ltd } ပညာရေးဝန်ကြီးဌာန၏လုပ်ထုံးလုပ်နည်းများအတိုင်း ဆက်လက်ဆောင်ရွက်ရန်။
လက်ခံစာတွဲ/မျှောစာတွဲ

| ဝင်စာအမှတ် | Mu-1034 |
|---|---|
| ရက်စွဲ | 16.10.18 |





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပညာရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

RPT-3965
15.10.18

စာအမှတ် ၊ မူဝါဒ(သဘောထားမှတ်ချက်)၂၀၉၀/၂၀၁၈(ပမြ၃၃၁)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ( ၁၁ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂-၁၀-၂၀၁၈) ရက်စွဲပါ စာအမှတ်၊ မရက - ၅ (အ) / ခ - ၀၂၂ / ၂၀၁၈ (၃၃၆)

(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)

၁။ ရာခိုင်နှုန်းပြည့်ရင်းနှီးမြှုပ်နှံမှုဖြင့် မလေးရှားနိုင်ငံ Ms. Mary Yap Ley Foon မှ ၉၀% နှင့် စင်ကာပူနိုင်ငံ Mr. Nandwani Prasanthi Kumar Moti မှ ၁၀% ထည့်ဝင်ပြီး မြန်မာနိုင်ငံတွင် Royal British International Co., Ltd. တည်ထောင်ကာ အမှတ်-၁၅၊ မြေကွက်အမှတ်-၇၈၊ မြေတိုင်းရပ်ကွက် အမှတ်-၄(ကံဘဲ့)၊ သုခိတာလမ်း၊ ကံဘဲ့ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၁၁၂ ဧကတွင် ပညာရေးဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေး အာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ပါအချက်များနှင့် ကိုက်ညီမှုရှိ-မရှိ စိစစ်ဆောင်ရွက်ပြီး ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း ပညာရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် ပေးပို့ခဲ့ပြီး ဖြစ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(ကက) နိုင်ငံသား၊

(ခခ) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(ဂဂ) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့် အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာ အရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိကကျောင်းဆရာများ၏ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေး အတွေ့အကြုံများနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိကကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံး နေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဍ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(ကက) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများ သည်ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိခြင်း၊

(ခခ) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(ဂဂ) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက် လျှောက်ထားသည့် ကုမ္ပဏီကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အထက်ဖော်ပြပါ အပိုဒ်(၂) (က)မှ (ထ)ရှိ အချက်အလက်များဖြင့် မဖြစ်မနေစိစစ်ရန် လိုအပ်ပါသဖြင့် ပညာရေးဝန်ကြီးဌာန၏ အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်နိုင်ရေးအတွက် သက်ဆိုင်ရာ ကုမ္ပဏီသို့ အကြောင်းကြားပေးနိုင်ပါရန် ညှိနှိုင်းအပ်ပါသည်-

ဒေါက်တာကျော်နိုင်
ဒုတိယအမြဲတမ်းအတွင်းဝန်
ပညာရေးဝန်ကြီးဌာန
ဖုန်း- ၀၆၇ ၄၀၇၁၁၆
အီးမေးလ် - drkyawnaing2009@gmail.com

၄။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၁)ပါကိစ္စနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်းနှင့်ပညာရေးဝန်ဆောင်မှုဆိုင်ရာ လုပ်ငန်းများနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊နည်းဥပဒေ၊စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်း ပြန်ကြားအပ်ပါသည်။

Kyaw Naing
11-10-18
ဒုတိယဝန်ကြီး (ကိုယ်စား)
( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

Royal British International Co., Ltd.၊ အမှတ်(၁၅)၊ သုခိတာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ/ မျှောစာတွဲ